အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် International Language & Business Center (ILBC) Co., Ltd. မှ နိုင်ငံတော်မှ ပြဋ္ဌာန်းသည့် သင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာသင်ရိုးညွှန်းတမ်းများကို အသုံးပြု၍ ပုဂ္ဂလိကပညာရေးဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - International Language & Business Center (ILBC) Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးတင်မောင်ဝင်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ILBC Holding Pte. Ltd. (စင်္ကာပူ) ၉၉.၉၉၉၇၆ %<br>Greewood Capital Private Limited (စင်္ကာပူ) ၀.၀၀၀၁၂ %<br>ဦးတင်မောင်ဝင်း (မြန်မာ) ၀.၀၀၀၁၂ % |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတော် ပြဋ္ဌာန်းသည့် သင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာသင်ရိုးညွှန်းတမ်းများကို အသုံးပြု၍ ပုဂ္ဂလိကပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီးနှင့် နေပြည်တော် ကောင်စီတို့ရှိ ကျောင်းခွဲများ |
| ၃။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ်) |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၇ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၅၂,၈၇၆,၃၅၄ |
| | **ထည့်ဝင်မည့်အမျိုးအစား** | - |
| | ငွေသား | အမေရိကန်ဒေါ်လာ<br>ပြည်တွင်း ၀.၀၀၀၁၂% ၇၄<br>နိုင်ငံခြား ၉၉.၉၉၉၈၈% ၅၂,၈၇၆,၂၈၀<br>**စုစုပေါင်း ၅၂,၈၇၆,၃၅၄** |
| ၆။ | ဝန်ဆောင်မှုနှုန်းထား<br>**အလင်းရောင်ကိုယ်ပိုင်**<br>**အထက်တန်းကျောင်း** | **ဝန်ဆောင်ခနှုန်း**<br>**(ကျပ်/တစ်လ)** |
| | မူကြို | ၁၈၀,၀၀၀ |
| | မူလတန်း | ၃၈၇,၀၀၀ |
| | အလယ်တန်း | ၄၁၀,၀၀၀ |
| | အထက်တန်း | ၄၅၀,၀၀၀ |

| | | |
|---|---|---|
| | **Yangon International School** (နိုင်ငံတကာသင်ရိုးဖြင့် သင်ကြားသည့်ပုဂ္ဂလိကကျောင်း)<br><br>မူကြို<br>အလယ်တန်း<br>အထက်တန်း<br><br>**ILBC ပုဂ္ဂလိကကျောင်း**<br><br>မူကြို (အချိန်ပြည့်)<br>မူကြို (အချိန်ပိုင်း)<br>Primary (အချိန်ပြည့်)<br>Primary (အချိန်ပိုင်း)<br>Secondary (အချိန်ပြည့်)<br>Secondary (အချိန်ပိုင်း) | **ဝန်ဆောင်ခနှုန်း (US$/တစ်လ)**<br>၁,၆၅၅<br>၁,၈၃၇<br>၂,၀၀၆<br><br>**ဝန်ဆောင်ခနှုန်း (ကျပ်/တစ်လ)**<br>၂၃၅,၀၀၀<br>၁၅၀,၀၀၀<br>၄၂၀,၀၀၀<br>၂၂၀,၀၀၀<br>၄၆၀,၀၀၀<br>၂၃၀,၀၀၀ |
| ၇။ | ဝန်ထမ်းခန့်ထားမှု<br>**သင်ကြားရေး**<br><br><br><br>**စီမံခန့်ခွဲရေး** | ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၁,၃၂၈ ဦး / ၉၂ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၂,၈၀၀,၀၀၀ / US$ ၃,၇၇၅<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၄၄,၀၀၀ / US$ ၁,၀၀၀<br>ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၉၄၅ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၂,၇၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၄၄,၀၀၀ |
| ၈။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် Myanmar Apex Bank တွင် ဦးတင်မောင်ဝင်း အမည်ဖြင့် ၃၀-၄-၂၀၁၈ ရက်စွဲတွင် ကျပ် ၁,၄၃၈,၆၄၈ ရှိကြောင်းနှင့် KBZ Bank (သဃ်န်းကျွန်းဘဏ်ခွဲ) တွင် International Language & Business Center (ILBC) Co.,Ltd. အမည်ဖြင့် ၃၀-၄-၂၀၁၈ ရက်စွဲတွင် ကျပ် ၃,၂၉၅,၉၀၅.၂ ရှိကြောင်း တင်ပြထားပါသည်။<br>- International Language & Business Center (ILBC) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းတို့ကို တင်ပြထားပါသည်။<br>- International Language & Business Center (ILBC) Co., Ltd. အား နိုင်ငံခြားကုမ္ပဏီအဖြစ် ပြောင်းလဲမှတ်ပုံတင်ပြီး ကြောင်း အထောက်အထားများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - International Language & Business Center (ILBC) Co., Ltd. မှ ၂၀၁၇-၂၀၁၈ ဘဏ္ဍာနှစ်အတွက် အခွန်စည်းကြပ်ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br>- လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး ကြီးကြပ်ရေးအဖွဲ့မှ မူလတန်းကြိုကျောင်းတည်ထောင်ခွင့်ပြုမိန့်၊ အလင်းရောင်တံဆိပ် ကိုယ်ပိုင်အထက်တန်းကျောင်းအား မှတ်ပုံတင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏၂၀၁၆-၂၀၁၇ ဘဏ္ဍာနှစ်အတွက် Financial Statement တင်ပြထားပါသည်။<br>- ILBC School နှင့် အလင်းရောင်ကိုယ်ပိုင် အထက်တန်းကျောင်းများအတွက် ရန်ကုန်စည်ပင်သာယာရေးကော်မတီ၊ မန္တလေးစည်ပင်သာယာရေးကော်မတီနှင့် နေပြည်တော်ကောင်စီ စည်ပင်သာယာရေးကော်မတီတို့မှ ထုတ်ပေးသည့် ၁ နှစ် သက်တမ်းရှိ အထွေထွေလုပ်ငန်းလိုင်စင်များ တင်ပြထားပါသည်။<br>- ဘာသာရပ်အလိုက် သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများ တင်ပြထားပါသည်။<br>- International Language & Business Center (ILBC) Co., Ltd. နှင့် မြေပိုင်ရှင်များနှင့် ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) များ တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာ ချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပြန်သည့် အမိန့် ကြော်ငြာစာအမှတ် ၇/၂၀၁၈ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများနှင့် စပ်လျဉ်းသည့် အမိန့်ကြော်ငြာစာဖြင့် ဆောင်ရွက်ခြင်းဖြစ်ပါသည်။<br>- ပညာရေးဝန်ကြီးဌာန၏ ပုဂ္ဂလိကပညာရေးဥပဒေ ပြဋ္ဌာန်းပြီးပါက အဆိုပါဥပဒေအတိုင်း လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၁၁၅/ ၂၀၁၈( ၂၂၉ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇူလိုင် လ ၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် International Language & Business Center (ILBC) Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နိုင်ငံတော်မှပြဌာန်းသည့် သင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာသင်ရိုးညွှန်းတမ်းများကို အသုံးပြု၍ ပုဂ္ဂလိကပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကော်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် International Language & Business Center (ILBC) Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီးနှင့် နေပြည်တော်ကောင်စီတို့တွင် နိုင်ငံတော်မှပြဌာန်းသည့် သင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာ သင်ရိုးညွှန်းတမ်းများကို အသုံးပြု၍ ပုဂ္ဂလိကပညာရေး ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာကော်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလွှာကော်ထားလွှာနှင့်အတူ International Language & Business Center (ILBC) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာနမှ မူလတန်းကြိုကျောင်း တည်ထောင်ခွင့်ပြုမိန့်၊ ပညာရေးဝန်ကြီးဌာနမှ အလင်းရောင်ကိုယ်ပိုင်ကျောင်း မှတ်ပုံတင်လက်မှတ်၊ ရန်ကုန်စည်ပင်သာယာရေးကော်မတီ မန္တလေးစည်ပင်သာယာရေးကော်မတီနှင့် နေပြည်တော်ကောင်စီတို့မှ ထုတ်ပေးသည့် လုပ်ငန်းလိုင်စင်များ၊ မြေငှားရမ်းစာချုပ် (မူကြမ်း) များကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၇ လ ဖြစ်ပြီး စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅၂.၈၇၆ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးတွင် ပြည်တွင်းဝန်ထမ်း ၁,၃၂၈ ဦး ပြည်ပဝန်ထမ်း ၉၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၈၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၇၇၅ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးတွင် ပြည်တွင်းဝန်ထမ်း ၉၄၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၇၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းခန့်ထားခြင်း မရှိပါ။

၅။ အဆိုပြုလုပ်ငန်းသည် ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာသင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာသင်ရိုးညွှန်းတမ်းများကို လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပြီး ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအမည် | ဝန်ဆောင်ခနှုန်း (ကျပ်/တစ်လ) |
|---|---|
| **အလင်းရောင်ကိုယ်ပိုင်အထက်တန်းကျောင်း** | |
| မူကြို | ၁၈၀,၀၀၀ |
| မူလတန်း | ၃၈၇,၀၀၀ |
| အလယ်တန်း | ၄၁၀,၀၀၀ |
| အထက်တန်း | ၄၅၀,၀၀၀ |
| **Yangon International School** (နိုင်ငံတကာသင်ရိုးဖြင့် သင်ကြားသည့်ပုဂ္ဂလိကကျောင်း) | **(US$/ တစ်လ)** |
| မူကြို | ၁,၆၅၅ |
| အလယ်တန်း | ၁,၈၃၇ |
| အထက်တန်း | ၂,၀၀၆ |
| **ILBC ပုဂ္ဂလိကကျောင်း** | **(ကျပ်/တစ်လ)** |
| မူကြို (အချိန်ပြည့်) | ၂၃၅,၀၀၀ |
| မူကြို (အချိန်ပိုင်း) | ၁၅၀,၀၀၀ |
| Primary (အချိန်ပြည့်) | ၄၂၀,၀၀၀ |
| Primary (အချိန်ပိုင်း) | ၂၂၀,၀၀၀ |
| Secondary (အချိန်ပြည့်) | ၄၆၀,၀၀၀ |
| Secondary (အချိန်ပိုင်း) | ၂၃၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနသို့ ၁၂-၆-၂၀၁၈ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံခဲ့ပြီး ၄-၇-၂၀၁၈ ရက်နေ့တွင် ပညာရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အတွင်းရေးမှူးတို့ တွေ့ဆုံဆွေးနွေးခဲ့ရာ ပြည်ထောင်စုဝန်ကြီးမှ ကန့်ကွက်ရန်မရှိကြောင်းနှင့် သဘောထားမှတ်ချက်ပြန်ကြားစာအား ဆက်လက်ပေးပို့မည်ဖြစ်ပါကြောင်း ပြောကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် Myanmar Apex Bank တွင် ဦးတင်မောင်ဝင်း အမည်ဖြင့် ၃၀-၄-၂၀၁၈ ရက်စွဲတွင် ကျပ် ၁,၄၃၈,၆၄၈ ရှိကြောင်းနှင့် KBZ Bank (သဃ်န်းကျွန်းဘဏ်ခွဲ) တွင် International Language & Business Center (ILBC) Co., Ltd. အမည်ဖြင့် ၃၀-၄-၂၀၁၈ ရက်စွဲတွင် ကျပ် ၃,၂၉၅,၉၀၅.၂ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိ ကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပြန်သည့် အမိန့်ကြော်ငြာစာအမှတ် ၇/၂၀၁၈ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများနှင့် စပ်လျဉ်းသည့် အမိန့်ကြော်ငြာစာဖြင့် အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခြင်း ဖြစ်ပါသည်။

(ဃ) ပညာရေးဝန်ကြီးဌာန၏ ပုဂ္ဂလိကပညာရေးဥပဒေ ပြဋ္ဌာန်းပြီးပါက အဆိုပါဥပဒေ အတိုင်း လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။

(င) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် International Language & Business Center (ILBC) Co., Ltd. မှ နိုင်ငံတော်မှ ပြဋ္ဌာန်းသည့် သင်ရိုးညွှန်းတမ်းနှင့် နိုင်ငံတကာ သင်ရိုးညွှန်းတမ်းများကို အသုံးပြု၍ ပုဂ္ဂလိကပညာရေးဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ